

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
အမျိုးသားညီညွတ်ရေးအစိုးရ
နိုင်ငံတော်သမ္မတရုံး
presidentoffice@nugmyanmar.org

---

ထုတ်ပြန်ကြေညာချက်အမှတ် (၁/၂၀၂၄)
၂၀၂၄ ခုနှစ်၊ မတ်လ (၂၂) ရက်နေ့

## ပြည်သူ့ကာကွယ်ရေးအဖွဲ့အစည်းများလိုက်နာရန် စစ်ဘက်ဆိုင်ရာကျင့်ဝတ်

ပြည်သူ့ကာကွယ်ရေးအဖွဲ့အစည်းများအားလုံးသည် အပြည်ပြည်ဆိုင်ရာ လူသားချင်းစာနာမှု ဥပဒေနှင့် အပြည်ပြည်ဆိုင်ရာ လူ့အခွင့်အရေးဥပဒေများကို လေးစားလိုက်နာကျင့်သုံးရမည်ဖြစ်သည်။ ကျူးလွန်သူများသည် တည်ဆဲဥပဒေများအရ ထိရောက်စွာ အရေးယူခံရမည် ဖြစ်သည်။ ဤစည်းမျဉ်း စည်းကမ်းများအား မပျက်မကွက် လေးစားလိုက်နာနိုင်ရေးအတွက် စောင့်ကြပ်ကြည့်ရှုခြင်းနှင့် အမိန့်၊ ညွှန်ကြားချက်ထုတ်ပြန်မှုအပါအဝင် လိုအပ်သည်များဆောင်ရွက်ခြင်းတို့ကို တပ်မှူးအဆင့်ဆင့်က တာဝန်ယူရမည်။

### စစ်သည်တော် ကျင့်ဝတ်စည်းကမ်းများ

၁။ ထိခိုက်ပျက်စီးမှု အနည်းဆုံးဖြစ်စေရန်အတွက် စစ်ဆင်ရေးဆောင်ရွက်ရာတွင် လိုအပ်သော အင်အားကိုသာအသုံးပြုရမည်။

၂။ အရပ်သားပြည်သူများကို ကာကွယ်စောင့်ရှောက်ရမည်၊ လေးစားရမည်။ အရပ်ဘက်ဆိုင်ရာ များအား ထိပါးခြင်းမပြုရ။ (အရပ်ဘက်ဆိုင်ရာဆိုသည်မှာ လက်နက်ကိုင်ပဋိပက္ခနှင့် မသက်ဆိုင်သည့် အရပ်သားများနှင့် အများပြည်သူပိုင်ဆိုင်သော ပစ္စည်းဥစ္စာများ၊ အဆောက်အဦးနှင့် နေရာများကို ဆိုလိုသည်။)

၃။ ဘာသာရေးအဆောက်အဦးနှင့် ယဉ်ကျေးမှုအမွေအနှစ်များအား လေးစားရမည်။

၄။ လက်နက်ကိုင်ပဋိပက္ခဆိုင်ရာဥပဒေ (သို့မဟုတ်) အပြည်ပြည်ဆိုင်ရာ လူသားချင်းစာနာမှု ဥပဒေ (IHL) အား ဖောက်ဖျက်ကျူးလွန်ခြင်း မပြုရ။ ဖောက်ဖျက်ကျူးလွန်မှုများကို တွေ့မြင်သိရှိပါက မည်သူမဆို တာဝန်ရှိသူထံ အမြန်ဆုံး သတင်းပေးပို့ရမည်။

၅။ တပ်မှူးများသည် စံနမူနာပြခေါင်းဆောင်မှုကိုပြသ၍ မိမိလက်အောက်ငယ်သားများကို ကျောသား ရင်သားမခွဲခြားဘဲ တရားမျှတစွာ ကွပ်ကဲအုပ်ချုပ်ရမည်။

၆။ အထက်ကွပ်ကဲမှုအဆင့်ဆင့်မှပေးအပ်သော အမိန့်နှင့်တာဝန်များကို လေးစားလိုက်နာရမည်။

၇။ တပ်ဖွဲ့ဝင်အချင်းချင်း ရဲဘော်ရဲဘက်စိတ်ဓာတ်ဖြင့် ပူးပေါင်းဆောင်ရွက်ရမည်။

၈။ လူမျိုး၊ ဘာသာ၊ ကျားမ၊ လိင်စိတ်ကွဲပြားခံယူမှုနှင့် ယုံကြည်မှုအပေါ်မူတည်၍ ခွဲခြားဆက်ဆံခြင်း မပြုရ။

၉။ တည်ဆဲဥပဒေအရတားမြစ်ထားသော မူးယစ်ဆေးဝါးများကို သုံးစွဲခြင်းမပြုရ။

၁၀။ လူမှုရေးရှုပ်ထွေးခြင်း မပြုရ။

**ပစ်မှတ်သတ်မှတ်ခြင်း**

၁။ စစ်ဘက်ဆိုင်ရာများကိုသာ ဦးတည်တိုက်ခိုက်ရမည်။ (စစ်ဘက်ဆိုင်ရာများဆိုသည်မှာ သဘာဝ၊ တည်နေရာ၊ ရည်ရွယ်ချက် သို့မဟုတ် အသုံးပြုမှုအရ မိမိရန်သူ၏စစ်ရေးလှုပ်ရှားမှုကို ထိထိရောက်ရောက် အထောက်အကူဖြစ်စေပြီး ယင်းတို့အား ဖျက်ဆီး သို့မဟုတ် သိမ်းပိုက်နိုင်ပါက မိမိတို့အတွက် လက်ဆုပ်လက်ကိုင်ပြနိုင်သော စစ်ရေးအရေးသာမှုရရှိစေသည့်အရာများ ဖြစ်ကြသည်။)

၂။ အရပ်သားပြည်သူများကို ခြိမ်းခြောက်ခြင်း၊ ပစ်မှတ်ထားတိုက်ခိုက်ခြင်း မပြုရ။

၃။ စာသင်ကျောင်း၊ ဆေးရုံ၊ ဘာသာရေးအဆောက်အဦ၊ ယဉ်ကျေးမှုဆိုင်ရာအထိမ်းအမှတ်၊ အရပ်သားပြည်သူများစုဝေးရာ စသည့် အရပ်ဘက်ဆိုင်ရာများအား ပစ်မှတ်ထားတိုက်ခိုက်ခြင်း မပြုရ။

၄။ လူနာတင်ယာဉ်များ၊ ကျန်းမာရေးစောင့်ရှောက်မှုပေးသောနေရာများ၊ ရှေးဦးသူနာပြုများနှင့် ကျန်းမာရေးစောင့်ရှောက်ကုသမှုပေးသူများ၊ လူမှုကယ်ဆယ်ရေးအသင်းအဖွဲ့များအား ပစ်မှတ်ထား တိုက်ခိုက်ခြင်း မပြုရ။

၅။ အရပ်သား သေဆုံး၊ ထိခိုက်ဒဏ်ရာရမှုနှင့် အရပ်ဘက်ဆိုင်ရာများ ပျက်စီးဆုံးရှုံးမှုတို့မှ ရှောင်ရှားနိုင်ရန်နှင့် မည်သည့်ဖြစ်စဉ်တွင်မဆို ထိခိုက်ပျက်စီးမှုအနည်းဆုံးဖြစ်စေရန်အတွက် လက်တွေ့ဖြစ်နိုင်ခြေရှိသည့် ကြိုတင်ကာကွယ်မှုအားလုံးကို ဆောင်ရွက်ရမည်။

၆။ အရပ်သား သေဆုံး၊ ထိခိုက်ဒဏ်ရာရမှုနှင့် အရပ်ဘက်ဆိုင်ရာများ ပျက်စီးဆုံးရှုံးမှုတို့သည် ခိုင်လုံသည့် တိုက်ရိုက်စစ်ရေးအရေးသာမှုထက် အလွန်အကျွံပိုများခြင်း မဖြစ်စေရ။

၇။ တားမြစ်ထားသော လက်နက်များအား အသုံးမပြုရ၊ တရားမဝင်သည့် စစ်ပွဲနည်းနာများဖြင့် တိုက်ပွဲဝင်ခြင်း မပြုရ။

**ဖမ်းဆီးထိန်းသိမ်းထားသူများအပေါ် ပြုမူဆက်ဆံခြင်း**

၁။ လက်နက်ချအညံ့ခံသူများနှင့် ဖမ်းဆီးထိန်းသိမ်းထားသူများကို နှိပ်စက်ညှဉ်းပန်းခြင်း၊ သတ်ဖြတ်ခြင်း မပြုရ။ ရက်စက်ကြမ်းကြုတ်သော၊ လူသားမဆန်သော (သို့မဟုတ်) ဂုဏ်သိက္ခာကျစေသော ပြုမူဆက်ဆံမှု (သို့မဟုတ်) အပြစ်ပေးမှုမျိုး မလုပ်ရ။

၂။ လက်နက်ချအညံ့ခံသူများနှင့် ဖမ်းဆီးထိန်းသိမ်းထားသူများကို အပြည်ပြည်ဆိုင်ရာ လူသားချင်းစာနာမှု ဥပဒေ (IHL)၊ အပြည်ပြည်ဆိုင်ရာ လူ့အခွင့်အရေး ဥပဒေ (IHRL) ပါ ပြဋ္ဌာန်းချက်များအတိုင်း လူ့ဂုဏ်သိက္ခာနှင့်အညီ ဆက်ဆံရမည်။ လုံလောက်သော အစားအစာ၊ ရေ၊ အဝတ်အထည်၊ နေရာနှင့် ဆေးဝါးကုသမှုများ စီစဉ်ပေးရမည်။

၃။ ဖမ်းဆီးထိန်းသိမ်းထားသူများကို ၎င်းတို့မိသားစုနှင့် ဆက်သွယ်ခွင့်ပြုရမည်။

၄။ အမျိုးသားနှင့် အမျိုးသမီး သီးသန့်ခွဲခြားချုပ်နှောင်ရမည်၊ မိသားစုများကိုအတူထားသည်မှလွဲ၍ ကလေးသူငယ်များနှင့် အရွယ်ရောက်ပြီးသူများကို သီးသန့်ခွဲထားရမည်။

၅။ ဖမ်းဆီးထိန်းသိမ်းထားသူများအနေနှင့် ၎င်းတို့အား မည်သည့်အတွက်ကြောင့် ဖမ်းဆီး ထိန်းသိမ်းထားသည်ဆိုသည့် သတင်းအချက်အလက်ရပိုင်ခွင့်နှင့် ဥပဒေပိုင်းဆိုင်ရာ အကူအညီရပိုင်ခွင့်များ ရှိစေရမည်။

၆။ သမာသမတ်ကျသည့် လူသားချင်းဆိုင်ရာအဖွဲ့အစည်းများအား ထိန်းသိမ်းထားသည့်နေရာများသို့ သွားရောက်ခွင့်ပြုရမည်။

၇။ အကျဉ်းနည်းဖြင့် သေဒဏ်ပေးခြင်းမပြုရ။

၈။ ဖမ်းဆီးထိန်းသိမ်းထားစဉ်ကာလအတွင်း သေဆုံးသွားသူများအား ကောင်းမွန်စွာ သင်္ဂြိုလ်ပေးရမည်၊ မှတ်တမ်းထားရှိရမည်။

## အရပ်သားပြည်သူများအပေါ် ပြုမူဆက်ဆံခြင်း

(အရပ်သားဆိုသည်မှာ မိမိရန်သူ၏ စစ်သားမဟုတ်သည့်အပြင် တိုက်ပွဲတွင် တိုက်ရိုက်ပါဝင်ပတ်သက်မှု မရှိသူဖြစ်သည်။)

၁။ အရပ်သားပြည်သူများကို လေးစားမှုဖြင့် လူသားဆန်ဆန် ဆက်ဆံရမည်။

၂။ အရပ်သားပြည်သူများကို သတ်ဖြတ်ခြင်း၊ မောက်မာခြင်း၊ စော်ကားခြင်း၊ အနိုင်ကျင့်ခြင်း၊ ညှဉ်းပန်းနှိပ်စက်ခြင်း၊ နှောက်ယှက်ခြင်း မပြုရ။

၃။ မည်သည့်အရပ်သားပြည်သူကိုမှ ရုပ်ပိုင်းဆိုင်ရာ၊ စိတ်ပိုင်းဆိုင်ရာနှင့် လိင်ပိုင်းဆိုင်ရာ ထိပါးနှောက်ယှက်ခြင်း မပြုရ။

၄။ အရေးပေါ်လိုအပ်ချက်ဖြင့် အရပ်သားပြည်သူပိုင် ပစ္စည်းဥစ္စာများကိုအသုံးပြုရပါက အသုံးပြုသည့် ကာလအပေါ်မူတည်၍ အခကြေးငွေ ပေးချေရမည်။

၅။ အရပ်သားပြည်သူများအပေါ် အဓမ္မ လုပ်အားပေးခိုင်းစေမှု၊ စစ်ပေါ်တာခိုင်းစေမှုများ အလျဉ်းမပြုရ။

၆။ အရပ်သားပြည်သူများကို ဓားစာခံအဖြစ်ခေါ်ဆောင်ခြင်း (သို့မဟုတ်) လူသားဒိုင်းအဖြစ် အသုံးပြုခြင်း မပြုရ။

၇။ ထိရှလွယ်အုပ်စုများဖြစ်သော အမျိုးသမီးများ၊ ကလေးများ၊ မသန်စွမ်းသူများနှင့် သက်ကြီးရွယ်အိုများကို အကူအညီပေးပြီး အထူးကာကွယ်စောင့်ရှောက်ရမည်။

၈။ လက်နက်ကိုင်ပဋိပက္ခကြောင့် ထိခိုက်ဒဏ်ရာရသူများနှင့် နာမကျန်းဖြစ်သူများကို ဆေးဝါးကုသမှု ပြုရမည်။

၉။ သမာသမတ်ကျသည့် လူသားချင်းဆိုင်ရာအဖွဲ့အစည်းများအား လက်နက်ကိုင်ပဋိပက္ခကြောင့် ထိခိုက်ရသော အရပ်သားပြည်သူများကို အကူအညီပေးခွင့် ပြုရမည်။

၁၀။ အရပ်သားပြည်သူများကို မတရားသည့်နည်းလမ်းများဖြင့် တရားလက်လွတ် ဖမ်းဆီးထိန်းသိမ်းခြင်း မပြုရ။

၁၁။ ၎င်းတို့ဘေးအန္တရာယ်ကင်းဝေးစေရေး သို့မဟုတ် အလွန်အရေးကြီးသော စစ်ဆင်ရေးဆိုင်ရာကိစ္စရပ်များအတွက် လိုအပ်သည်မှလွဲ၍ အရပ်သားပြည်သူများကို အဓမ္မနေရာရွှေ့ပြောင်းခြင်း မပြုရ။

**အမျိုးသမီး၊ လိင်စိတ်ခံယူမှုကွဲပြားသူ (LGBTIQ) နှင့် ကလေးများအပေါ် ပြုမူဆက်ဆံခြင်း**

၁။ အမျိုးသမီးများနှင့် လိင်စိတ်ခံယူမှုကွဲပြားသူများကို ကာယိန္ဒြေပျက်စီးစေခြင်း၊ အရှက်ခွဲခြင်း၊ လိင်ပိုင်းဆိုင်ရာ ခေါင်းပုံဖြတ်အမြတ်ထုတ်ခြင်း၊ အကြမ်းဖက်ခြင်းနှင့် စော်ကားခြင်းများ မပြုရ။

၂။ ကလေးများကို လိင်ပိုင်းဆိုင်ရာ မဖွယ်မရာပြုခြင်း၊ အရှက်ခွဲခြင်း၊ လိင်ပိုင်းဆိုင်ရာ ခေါင်းပုံဖြတ်အမြတ်ထုတ်ခြင်း၊ အကြမ်းဖက်ခြင်းနှင့် စော်ကားခြင်းများ မပြုရ။

၃။ လိင်ကိစ္စအတွက် ပစ္စည်း၊ ဝန်ဆောင်မှုဖြင့် အလဲအလှယ် မပြုရ။

၄။ တစုံတရာအကူအညီရရှိနိုင်ရန် လိင်ကိစ္စကမ်းလှမ်းမှု မပြုရ။

၅။ ကလေးများအပေါ် "ကြီးလေးသည့်ကျူးလွန်မှု (၆) ရပ် (Six Grave Violations)" ဖြစ်သည့် သတ်ဖြတ်ခြင်းနှင့် ကိုယ်လက်အင်္ဂါထိခိုက်စေခြင်း၊ လက်နက်ကိုင်အဖွဲ့များအတွက် တပ်သားသစ် စုဆောင်းခြင်းနှင့် အသုံးပြုခြင်း၊ လိင်ပိုင်းဆိုင်ရာစော်ကားခြင်း၊ ဖမ်းဆီးခြင်းနှင့် ပြန်ပေးဆွဲခြင်း၊ ကျောင်းနှင့်ဆေးရုံများအား တိုက်ခိုက်ခြင်းနှင့် လူသားချင်းဆိုင်ရာအကူအညီမရစေခြင်းတို့ကို မကျူးလွန်ရ။

၆။ အသက် (၁၈) နှစ်အောက် ကလေးများကို တပ်သားသစ်စုဆောင်းခြင်း၊ လက်နက်ကိုင်လှုပ်ရှားမှုတွင် ပါဝင်စေခြင်း (သို့မဟုတ်) အခြားအန္တရာယ်ရှိစေမည့်လုပ်ငန်းများတွင် အသုံးပြုခြင်း မပြုရ။

(signature)
၂၁ /၁၂ /၂၀၂၄

ဒူဝါလရှီးလ
ယာယီသမ္မတ
အမျိုးသားညီညွတ်ရေးအစိုးရ
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်



Republic of the Union of Myanmar
National Unity Government
President Office
presidentoffice@nugmyanmar.org

Announcement No. (1/ 2024)
March 22, 2024

**Military Code of Conduct for People's Defence Forces**

All People's Defence Forces shall respect and apply International Humanitarian Law (IHL) and International Human Rights Law (IHRL). Violators shall be charged seriously in accordance with existing laws. All commanders are responsible for ensuring that these rules are respected, through monitoring and enforcement.

**Soldier's Rules**

1. Shall use only necessary force with minimum damages when conducting operations.
2. Shall protect and respect civilians. Shall spare civilian objects, which are civilian, who are not affiliated with armed conflict, and public properties, buildings and places.
3. Shall respect religious and cultural objects and heritages.
4. Shall not violate the law of armed conflict or International Humanitarian Law (IHL). Any violation shall be reported to responsible commander as soon as possible.
5. Shall lead as an example by commanders and command subordinates fairly and without discrimination.
6. Shall respect orders and duties given by different chains of command.
7. Shall cooperate between comrades with the spirit of comradeship.
8. Shall not discriminate based on races, religion, sex, gender, belief.
9. Shall not use drugs prohibited by existing law.
10. Shall not get involved in any social affair (complications).

**Targeting (Warfare)**

1. Shall attack only military objectives. (It effectively contributes to the enemy's military action by its nature, location, purpose or use and its destruction, capture or neutralization must offer the attacking party a definite military advantage.)
2. Shall not threaten and target civilians.

3. Shall not target civilian objects, such as schools, hospitals, places of worship, cultural monuments and gathering places of civilians.
4. Shall not target ambulances, health-care centers, first-aid workers, health-care workers, members of social relief organizations.
5. Shall take all feasible precautions to avoid, and in any event minimize, civilian casualties and damage to civilian objects.
6. Civilian casualties and damage to civilian objects shall not be excessive in relation to the concrete and direct military advantage.
7. Shall not use prohibited weapons and engage in unlawful methods of war.

**Detention**

1. Shall not torture and kill those who lay down their arms and surrender, and detainees. Shall not commit cruel, inhumane or degrading treatment or punishment against detainees.
2. Shall treat those who lay down their arms and surrender, and detainees with humanity and dignity according to IHL and human rights law. Shall provide them with adequate food, water, clothing, shelter and medical attention.
3. Shall allow detainees to contact family members.
4. Shall separate men and women when detained and children from adults, except when families are kept together.
5. Shall ensure detainees have the right to information about the reasons for detention and the right to legal assistance where this is feasible.
6. Shall allow impartial humanitarian organizations to visit places of detention.
7. Shall not commit summary execution.
8. Shall respect the bodies of those who die in detention. Shall keep their records.

**Treatment of Civilians**

(A civilian is a person who is not an enemy fighter and does not directly take part in the fighting.)

1. Shall treat civilians humanely with respect.
2. Shall not murder, disrespect, assault, bully, torture and disturb civilians.
3. Shall not physically, mentally and sexually assault any civilian.
4. Shall pay if civilian facilities/property were used in case of emergency depending on the period of usage.
5. Shall not force civilians to be laborers and porters.
6. Shall not take civilians as hostages or use as human shields.
7. Shall provide assistance and special protection to children, people with disability, women, elderly (vulnerable group).
8. Shall provide medical care to those wounded and sick because of armed conflict.
9. Shall allow impartial humanitarian organizations to aid civilian populations affected by armed conflict.
10. Shall not detain civilians with illegal means, and arbitrarily.

11. Shall not forcibly displace civilians unless this is necessary for their own safety or for imperative operational reasons.

**Treatment of Women, LGBTIQ and Children** Shall refrain from sexual ill-treatment, humiliation, sexual exploitation, violence and abuse against women and LGBTIQ.

1. Shall refrain from sexual ill-treatment, humiliation, sexual exploitation, violence and abuse against children.
2. Shall not barter goods and services in exchange for sexual profits.
3. Shall refrain from asking for sexual favors to get help.
4. Shall not commit six grave violations against children: killing and maiming of children, recruitment, and use of children by armed forces and armed groups, sexual violence against children, abduction of children, attacks against schools or hospitals, denial of humanitarian access for children.
5. Shall not recruit children under 18 years old, use them to commit acts of violence or other activities that put them at risk.

22/3/2024

Duwa Lashi La
Acting President
National Unity Government
Republic of the Union of Myanmar